


# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်




ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၀၁၀ /၂၀၁၄ ။ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ၃၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးကျော်သူရသက်

(ခ) **အဘ အမည်** ဦးတင်ထွန်းသက်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ကမရ(နိုင်) ၀၅၁၁၆၈

(ဃ) **နေရပ်လိပ်စာ** အမှတ်(၈၁-က)၊ မဟာစည်သာသနာ့ရိပ်သာလမ်း၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** B.O.Tစနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ငွေဆောင်ကမ်းခြေ (စင်ထရယ်)ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ ငွေဆောင်မြို့နယ်၊ ဟိုတယ်ဇုန်၊ အမှတ်(၃)ရပ်ကွက်၊ ကျောက်ကြီးပြင်ကွင်း၊ မြေကွက်အမှတ်(၁၉)ရှိမြေ (၄၅.၉၈)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၅၃၅၁.၇၈ သန်း (အမေရိကန်ဒေါ်လာ ၂.၉၃ သန်းခန့် အပါအဝင် စုစုပေါင်းကျပ် ငါးထောင်သုံးရာငါးဆယ့်တစ်သန်းနှင့် ခုနစ်သိန်း ရှစ်သောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၇၁ /၂၀၁၄ (မနသ)

၂၀၁၄ ခုနှစ် အောက်တိုဘာ လ ၃၁ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီမိတက်)သည် မြန်မာ့ စီးပွားရေး ဦးပိုင်လီမိတက် လက်အောက်ခံ နဝဒေး ဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက်ပိုင် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ ငွေဆောင် မြို့နယ်၊ ဟိုတယ်ဇုန်၊ အမှတ်(၃)ရပ်ကွက်၊ ကျောက်ကြီးပြင်ကွင်း၊ မြေကွက်အမှတ်(၁၉) ရှိမြေ (၄၅.၉၈)ဧကနှင့် ၎င်းမြေပေါ်ရှိ ဘန်ဂလို(၄၁)ခန်း နှင့် အခြားအထောက်အကူပြု အဆောက်အဦများ ပါဝင်သည့် ငွေဆောင်ကမ်းခြေ (စင်ထရယ်) ဟိုတယ်ကို B.O.T စနစ်ဖြင့် ငှားရမ်းပြီး ထပ်မံရင်းနှီး မြှုပ်နှံ၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးကျော်သူရသက် (အဘ-ဦးတင်ထွန်းသက်) မှ မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်မှ တစ်ဆင့် အဆိုပြုတင်ပြချက်အား ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင်ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၁/၂၀၁၄ ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ တည်ဆောက်ရေးကာလအား ပြင်ဆင်တင်ပြရန်၊ ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန၏ သတ်မှတ်ချက်နှင့်အညီ အဆောက်အဦ ပုံစံကို ပြင်ဆင်ရန်၊ မော်တော်ဆိုင်ကယ် (၅)စီးအား ပြည်တွင်းတွင် ဝယ်ယူရန်နှင့် ကျန်လူစီးမော်တော်ယာဉ် (၁၀)စီးအား ပြည်ပမှ အခွန် အကောက် ပေးဆောင်၍ တင်သွင်းရန် ဆုံးဖြတ်ခဲ့သည်။

၂။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီ လီမိတက်)သည် မြန်မာ့စီးပွားရေး ဦးပိုင်လီမိတက် မှတစ်ဆင့် အဆိုပါအစည်းအဝေး ဆုံးဖြတ်ချက် နှင့်အညီ တည်ဆောက်ရေးကာလအား ၄ နှစ်နှင့် ၂ လ သို့ ပြင်ဆင်၍ တင်ပြလာခြင်းအပေါ် ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ၁၉ ရက်နေ့တွင်ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၁/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးမှ တည်ဆောက်ရေးကာလအား ၃ နှစ်သို့ ပြင်ဆင်ရန်နှင့် ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန၏ သတ်မှတ်ချက်နှင့်အညီ အဆောက်အဦ ပုံစံကို ပြင်ဆင်ရန် ဆုံးဖြတ်ခဲ့သည်။

၃။ အထက်အပိုဒ်(၂)ပါအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီမိတက်)မှ တည်ဆောက်ရေးကာလနှင့် အဆောက်အဦ ပုံစံတို့ကို ပြင်ဆင်တင်ပြလာသဖြင့် ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ၂၅ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၅/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ခွင့်ပြုခဲ့သည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်း

ထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီမိတက်) အား ငွေဆောင်ကမ်းခြေ (စင်ထရယ်) ဟိုတယ်ကို B.O.T စနစ်ဖြင့် ငှားရမ်းပြီး ထပ်မံတိုးမြှင့် ရင်းနှီးမြှုပ်နှံ၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၀၁၀/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၄။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် အောက်ပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ ဝန်ဆောင်မှုလုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန် အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းများ

အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၆။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၇။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၈။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီမိတက်)သည် တည်ဆောက်ရေးကာလ (၃)နှစ်အတွင်းရရှိသော ဝင်ငွေအပေါ် ထိုက်သင့် သော ဝင်ငွေခွန်ကို ပေးဆောင်ရမည်။

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၁၀။ လုပ်ငန်းဆောင်ရွက်မည့်မြေ (၄၅.၉၈)ဧကနှင့် ငွေဆောင်ကမ်းခြေ(စင်ထရယ်)ဟိုတယ်သည် မြန်မာ့စီးပွားရေးဦးပိုင် လီမိတက်လက်အောက်ခံ နဝဒေးဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက်မှ ပိုင်ဆိုင်သည်ဟု ဖော်ပြထားသော်လည်း ပူးတွဲတင်ပြထားသော မြေစာရင်းပုံစံ ၁၀၆ တွင် ပိုင်ရှင်အမည်မှာ နတခ ဟိုတယ်ဇုန်၊ ငွေဆောင်နှင့် ပိုင်ဆိုင်ခွင့်မှာ အစိုးရဟူ၍ ပါရှိသဖြင့်

အဆိုပါမြေအား နဝဒေးဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက် အမည်ဖြင့် အမည်ပေါက်ဖြစ်စေရေးအတွက် ပုသိမ်မြို့နယ် မြေစာရင်း ဦးစီးဌာနသို့ လျှောက်ထားဆောင်ရွက်ရမည်။ မြေဂရန်ရရှိပါက မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ **မပျက် မကွက်** ပေးပို့တင်ပြရမည်။

၁၁။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် နဝဒေးဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက် နှင့် Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီမိတက်)တို့ ချုပ်ဆို မည့် B.O.T စနစ်ဖြင့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၂။ နဝဒေးဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ကုမ္ပဏီလီမိတက်ပိုင် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့၊ ငွေဆောင်မြို့နယ်၊ ဟိုတယ်ဇုန်၊ အမှတ်(၃) ရပ်ကွက်၊ ကျောက်ကြီးပြင်ကွင်း၊ မြေကွက်အမှတ်(၁၉) ရှိမြေ (၄၅.၉၈)ဧကနှင့် ၎င်းမြေပေါ်ရှိ ဘန်ဂလို(၄၁)ခန်းနှင့် အခြားအထောက်အကူပြု အဆောက်အဦများ ပါဝင်သည့် ငွေဆောင် ကမ်းခြေ (စင်ထရယ်)ဟိုတယ်ကို B.O.T စနစ်ဖြင့် ကနဦး နှစ်(၅၀)နှင့် ကော်မရှင်မှသဘောတူပါက (၁၀)နှစ် (၂)ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းနိုင်သည်။

၁၃။ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရန် တည်ဆောက်ရေးကာလ ၃နှစ်အား အောက်ပါအတိုင်း သတ်မှတ်ထားသည်-

(က) တည်ဆောက်ရေးကာလ အပိုင်း-၁ ။ စာချုပ် စတင်လက်မှတ်ရေးထိုးသည့် နေ့မှ ၅ လ တိတိ
- လက်ရှိအခန်း ၄၁ ခန်းအား အကြီးစားပြင်ဆင်တည်ဆောက်ခြင်း
- ဂေါက်ကွင်းလုပ်ငန်း
- Land Scaping

(ခ) တည်ဆောက်ရေးကာလ အပိုင်း-၂ ။ စာချုပ် စတင်လက်မှတ်ရေးထိုးသည့်နေ့မှ ၁၂ လတိတိ
- ၂၈ ခန်းပါ (၁၀၅' x ၄၄') နှစ်ထပ်အဆောက်အဦ ဆောက်လုပ်ခြင်း
- (၁၀၅' x ၄၄') Commercial Complex နှစ်ထပ်အဆောက်အဦ ဆောက်လုပ်ခြင်း

(ဂ) တည်ဆောက်ရေးကာလ အပိုင်း-၃ ။ တည်ဆောက်ရေးကာလအပိုင်း-၂ ပြီးသည့် ရက်မှ ၂၄ လတိတိ
- အခန်း ၆၀ ပါ နှစ်ထပ်အဆောက်အဦ ဆောက်လုပ်ခြင်း
- (၁၀၅' x ၅၀') Commercial Complex နှစ်ထပ်အဆောက်အဦ ဆောက်လုပ်ခြင်း

၁၄။ ငွေဆောင်ကမ်းခြေ (စင်ထရယ်)ဟိုတယ်ပါ မြေနှင့်အဆောက်အဦများ ငှားရမ်းခမှာ တစ်နှစ်လျှင် ကျပ်သိန်း ၁၅၀၀ ဖြစ်သည်။ ငှားရမ်းခနှင့်စပ်လျဉ်း၍ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီမိတက်)သည် ပထမနှစ်အတွက် ငှားရမ်းခ

အား စတင်ငှားရမ်းသည့်နေ့မှ ၁၅ ရက်အတွင်း နဝဒေးဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက်သို့ ပေးသွင်းရမည်ဖြစ်ပြီး နှစ်စဉ်ပေးသွင်းရာ၌ ၁ နှစ် ပြည့်သည့် ကာလမကုန်မီ ပေးသွင်း ရမည်။

၁၅။ ငှားရမ်းခကို ၃ နှစ် တစ်ကြိမ် ပြန်လည်သုံးသပ်၍ တစ်ဆက်တည်း ငှားရမ်းခနှုန်းထားကို ၁၅% နှုန်းထက်မပိုသောနှုန်းထားဖြင့် နှစ်ဖက်ပြန်လည်ညှိနှိုင်း၍ စာချုပ်အား ၃ နှစ် ၁ ကြိမ်ပြန်လည် ချုပ်ဆိုရမည်။

၁၆။ မြေအသုံးချမှုပရီမီယံကြေးအဖြစ် အမေရိကန်ဒေါ်လာ ၇.၅ သိန်းအား Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီမိတက်) မှ စာချုပ် လက်မှတ် ရေးထိုးသည့် နေ့မှစ၍ ရက်ပေါင်း ၃၀ အတွင်း နဝဒေးဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက် မှ သတ်မှတ်သည့် ဘဏ်စာရင်းသို့ ပေးသွင်းရမည်။

၁၇။ စာချုပ်သက်တမ်း ကုန်ဆုံးပြီး အခြားသဘောတူညှိနှိုင်းချက်များ မရှိပါက (သို့မဟုတ်) စာချုပ် ရပ်စဲပါက ငှားရမ်းသည့် ကာလကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်နေ့မှ ရက်ပေါင်း ၃၀ အတွင်း မြေနှင့်အဆောက်အဦကို Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီမိတက်)မှ နဝဒေးဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက် သို့ ကောင်းမွန်သော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ ပြန်လည်အပ်နှံရမည်။

၁၈။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီ လီမိတက်)သည် အဆောက်အအုံ ပြီးစီးသည့်အခါ ဟိုတယ်လုပ်ငန်း လိုင်စင်ရရှိရေးအတွက် ဟိုတယ် နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနသို့ လျှောက်ထားရမည်။

၁၉။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီလီ မိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက်လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါဥပဒေပါပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်း များနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၂၀။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အအုံအတွက် အမှန်တကယ် လိုအပ်သော ဆောက်လုပ်ရေး လုပ်ငန်းသုံးပစ္စည်းများကို ပြည်ပမှ တင်သွင်းသည့်အခါ ပစ္စည်း အမျိုးအစားနှင့် အရေအတွက်ကို BQ တွင် ဖော်ပြထားသည့်အတိုင်း မြန်မာနိုင်ငံ အင်ဂျင်နီယာ အသင်း၏ လမ်းညွှန်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၂၁။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာ တွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီး ဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၂၂။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်းစနစ် တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီး ဌာန၏ ဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၂၃။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၄။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီ လီမိတက်)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၂၆။ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီ လီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ သက်ဆိုင်ရာ ဝန်ကြီးဌာနများနှင့် အဖွဲ့အစည်းတို့မှ ချမှတ်ထားသော တည်ဆဲစည်းမျဥ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ရမည်။

၂၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသည့် ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသည့် လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်းခံရမည်။

၂၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ ရက- ၄/မ- ၁၄၂၀/၂၀၁၄ ( ၁၁၁ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာ လ ၃၁ ရက်

ဖြန့်ဝေခြင်း -

သမ္မတဦးစီးရုံး

ဒုတိယ သမ္မတ(၁) ဦးစီးရုံး

ဒုတိယ သမ္မတ(၂) ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေး နှင့် သတင်းအချက်အလက် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ပုသိမ်မြို့

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဟိုတယ်နှင့် ခရီးသွားလုပ်ငန်း

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ ရန်ကုန်မြို့

ဥက္ကဋ္ဌ၊ မြန်မာ့စီးပွားရေးဦးပိုင်လီမိတက်

မန်နေဂျင်းဒါရိုက်တာ၊ နဝဒေးဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ကုမ္ပဏီ လီမိတက်

မန်နေဂျင်းဒါရိုက်တာ၊ Know The Truth Group Company Limited (နိုးသည်ထရုသ် ဂရု(ပ်) ကုမ္ပဏီ လီမိတက်)